(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) စံနှုန်းသတ်မှတ်ချက် Norm မပါရှိသဖြင့် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအမျိုးအစား ကိုက်ညီမှု ရှိ/မရှိအား စိစစ်နိုင်ခြင်းမရှိပါသဖြင့် Norm နှင့် Import ပမာဏကို ပြန်လည်စိစစ်ရန် လိုအပ်ပါသည်။

(စ) ဓာတုပစ္စည်းသုံးစွဲထုတ်လုပ်သည့် လုပ်ငန်းဖြစ်၍ ကုန်ကြမ်း ကုန်ချောပစ္စည်းများအား Handling , Storage နှင့် Transportation စသည့် စနစ်အားလုံးတွင် သက်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ နည်းပညာလုပ်ထုံးလုပ်နည်းများနှင့်အညီ ကြိုတင်စီမံ ဆောင်ရွက်ထားရန် လိုအပ်ပါသည်။

(ဆ) သားမွေးလုပ်ငန်း၏ လုပ်ငန်းသဘောသဘာဝအရ အရောင်ချွတ်ဆေးအပါအဝင် ဓာတုပစ္စည်းများနှင့် ရေများစွာ အသုံးပြုရ၍ ရေဆိုးများစွာ ထွက်ရှိမည်ဖြစ်ရာ Proposal တွင် Water Treatment System အရ Sedimentation နှင့် Chemical Treatment ဆောင်ရွက်မည်ကြောင်း ဖော်ပြသဖြင့် နည်းပညာ ပိုမိုအဆင့်မြင့်သော Treatment System အား တပ်ဆင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဇ) သားမွေးလုပ်ငန်းဖြစ်၍ လေထုညစ်ညမ်းစေမည့် သားမွေးအမှုန်အမွှား၊ အနံ့အသက်များအား ထိန်းသိမ်းသည့်စနစ် လိုအပ်ပါသည်။

၃။ သို့ပါ၍ Filand Co.,Ltd. မှ Contract Manufacturing Process (CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄/အလ/ခွဲ(၂)၂၀၁၆(၇၇၅၅)
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၁၀ ရက်

NPT. 2094
16.8.16သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-1208
17/8/16

အကြောင်းအရာ။ **Filand Co., Ltd မှ CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်း လုပ်ငန်း သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၇-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃/န- ၁၃၁၇/၂၀၁၆(၁၀၁၇-စ)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ အနော်ရထာစက်မှုဇုန် ၊ မြေတိုင်းရပ်ကွက် အမှတ်(၂၀)၊ မြေကွက် အမှတ် (F-5)၌ ကနေဒါနိုင်ငံမှ Filand Enterprise Inc က ၈၀% နှင့် မြန်မာနိုင်ငံမှ ချမ်းမြေ့ကြွယ်အုပ်စုမှ ၂၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် Filand Co.,Ltd တည်ထောင်ပြီး ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာမှုအပေါ် ရန်ကုန်တိုင်းဒေသကြီး CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့ ဥက္ကဋ္ဌ၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန၊ ညွှန်ကြားရေးမှူး ဒေါ်မို့မို့သွင်၊ အလုပ်ရုံနှင့်အလုပ်သမားဥပဒေစစ်ဆေးရေးဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးကျော်ကျော်ထွန်းနှင့် အထည်ချုပ်စက်ရုံအမှတ်(၁၇) စက်ရုံမှူး ဒေါ်လှသီတာတို့သည် ၅-၈-၂၀၁၆ ရက်နေ့တွင် စက်ရုံသို့ သွားရောက်စစ်ဆေးခဲ့ပါသည်။

၂။ Filand Co.,Ltd ၏ ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုကို စိစစ်ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) **CMP ကုန်ကြမ်း လိုအပ်ချက်နှင့်ကုန်ချောထုတ်လုပ်မှု အမျိုးအစား ညီညွတ်မှု ရှိ/မရှိ**

အဆိုပြုချက်ပါ ထုတ်လုပ်မည့် စက်ရုံသည် ဖျံ၊ မြေခွေး၊ ကြွက်ကတိုးများ၏ အမွေးများအား သားမွေး Pieces အဖြစ် တင်သွင်းပြီး Chemical ဖြင့် Treatment ပေးခြင်း၊ အချောသတ်ခြင်းများ ဆောင်ရွက်ပြီး အချို့ကို Garment Accessories အဖြစ် ထုတ်လုပ်သည့် လုပ်ငန်းဖြစ်ပါသည်။ Raw Material များအား တင်သွင်းပြီး ပြန်လည်အချောကိုင်ပြီးပါက ပစ္စည်းအားလုံး ပြန်လည်ထွက်သွားခြင်း မရှိကြောင်း တွေ့ရှိရပါသည်။

MIC ၈/၁၆

NPT-2241
30-8-2016

M-1300
31/8/16

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး ( ၁၀၀၄ /၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၇-၂၀၁၆) ရက်စွဲပါစာအမှတ်၊ မရက-၃/ န-၁၃၁၇/ ၂၀၁၆ (၁၀၁၇-င)
(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၁၉-၈-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ညကခ/သထ/ Filand/ ၂၀၁၆ (၂၃၄၈)

၁။ ကနေဒါနိုင်ငံမှ Filand Enterprise Inc. သည် ၈၀% နှင့် မြန်မာနိုင်ငံမှ Chan Myae Kywe Group Co.,Ltd သည် ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Filand Co.,Ltd တည်ထောင်ကာ မြေကွက်F-5၊ မြေတိုင်းရပ်ကွက်အမှတ် ၂၀၊ အနော်ရထာစက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၅၂၇ ဧက (၆၁၇၉.၅၆ စတုရန်းမီတာ)၌ Contract Manufacturing Process (CMP)စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်နှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက် (၁) ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Filand Co.,Ltd မှအဆိုပြုတင်ပြခြင်းနှင့်စပ်လျဉ်း၍ စိစစ်စေခဲ့ရာ ကုမ္ပဏီသည် Beaver, Raccon, Mink, Fox, Coyote, Muskrat သားရေများကို(၁၀)နှစ်အတွင်း (၃၅၈၄၀)ချပ် တင်သွင်းမည်ဖြစ်ပြီး ၎င်းတို့ကို Chemical treatment ပေးရန် Strong acid and Alkali (၁၃)မျိုး၊ Dynes and other chemical for leather tanning အတွက် (၃၀)မျိုး၊ စုစုပေါင်း chemical (၄၃)မျိုး တင်သွင်းမည်ဖြစ်ပါသည်။ ၎င်း chemical များထဲမှ လူထုကျန်းမာရေးအတွက် ထိခိုက်နိုင်သည့် ဓာတုပစ္စည်းအချို့၏ တင်သွင်းမည့်ပမာဏမှာ (၁၀)နှစ်အတွက်-

| | | |
|---|---|---|
| - | Formic acid | (၁၇၁) တန် |
| - | Acetic acid | (၇၄) တန် |
| - | Hydrogen peroxide | (၂၆) တန် |
| - | Potassium Dichromate | (၃၆) တန် |
| - | Formaldehyde | (၅၇) တန် |
| - | Tetra chloroethylene | (၄၅၇) တန် |
| | **စုစုပေါင်း** | **(၈၂၁) တန်** - ဖြစ်ပါသည်။ |

၃။ ၎င်းတွင် Formic acid သည် အပူ၊ acid ပြင်းတို့နှင့် ထိတွေ့ပါက CO gas ထွက်နိုင်ပါသည်။ Acetic acid သည် မီးလောင်လွယ်ပြီး အသားအရေကို ပူစပ်သည့်အန္တရာယ် ဖြစ်စေပါသည်။ $H_2O_2$ သည် မီးလောင်လွယ်ပြီး ၄၀% ကျော်ပါက ပတ်ဝန်းကျင်ကိုပျက်စီးစေပါသည်။ Potassium Dichromate မီးလောင်လွယ်ပြီး $K_2Cr_2O_7$ သည် ပြင်းထန်သော အရေပြား ယောင်ယမ်းမှုကို ဖြစ်စေနိုင်ပါသည်။ ၎င်းသည်အဆိပ်အတောက်ဆိုင်ရာလေ့လာမှုအရ လောင်စားနိုင်ခြင်း၊ ကင်ဆာဖြစ်စေနိုင်ခြင်း၊ မျိုးပွားမှုကိုထိခိုက်ခြင်းနှင့် သန္ဓေသားသေဆုံးမှုကို ဖြစ်စေနိုင်သည့်အပြင် Aquatic organism များကိုလည်းပျက်စီးစေနိုင်ပါသည်။ Formaldehyde သည် International Agency for Research on Cancer (IARC-1995) ၏ သတ်မှတ်ချက်အရ 0.007 ppm ကို ကြာရှည်စွာ ထိတွေ့ပါက ကင်ဆာရောဂါဖြစ်စေနိုင်ကြောင်း ဖော်ပြပါရှိပါသည်။ လုပ်ငန်းခွင်အတွင်း လက်ခံနိုင်သည့် အများဆုံးပမာဏမှာ 0.3ppm သာဖြစ်ပါသည်။ Tetra Chloroethylene သည် IARC ၏ သတ်မှတ်ချက်အရ group II-A Carcinogen ဖြစ်ပြီး ၎င်းကြောင့် အာရုံကြောများ ပျက်စီးခြင်း၊ အသည်း၊ ကျောက်ကပ်တွင်ကင်ဆာဖြစ်ပွားခြင်း၊ အသက်အန္တရာယ်ဖြစ်စေနိုင်သည့် အဆိပ်ငွေ့များ ထွက်နိုင်ခြင်းစသည့် အန္တရာယ်များရှိပါသည်။ Fur Dressing အတွက် အသုံးပြုမည့် Lanadol KFN နှင့် Pelfour 200/3 Kicking oil တို့ကိုလည်း (၁၀)နှစ်အတွင်း တန်ချိန် (၄၃၅၀)နှင့် (၁၉၅၀)တင်သွင်းမည်ဖြစ်ရာ ယင်းသည်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုအန္တရာယ်ကို ဖြစ်စေနိုင်ပါသည်။

၄။ အဆိုပါဓါတုပစ္စည်းများသည် ရောဂါဝေဒနာများကို များစွာဖြစ်ပေါ်စေနိုင်ပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှုအန္တရာယ်ကိုပါ ဖြစ်ပေါ်စေနိုင်ပါကြောင်းနှင့် ရင်းနှီးမြှုပ်နှံမှုနှင့်ပတ်သက်၍ ခွင့်ပြုမည်ဆိုပါက ဓါတုပစ္စည်းတင်သွင်းမှု၊ အသုံးပြုမှုကြောင့် ဖြစ်ပေါ်နိုင်သည့် ဆိုးကျိုးများအား ထည့်သွင်းစဉ်းစားသင့်ပါကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်းချက်(၂)ပါစာဖြင့်တင်ပြထားပါသည်။

၅။ သို့ဖြစ်ပါ၍ကနေဒါနိုင်ငံ Filand Co.,Ltd မှ Contract Manufacturing Process (CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်းတွင် Chemical အသုံးပြုခြင်းနှင့်ပတ်သက်၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်အပေါ် ဖြစ်ပေါ်နိုင်သည့် ဆိုးကျိုးများအား ထည့်သွင်းစဉ်းစားသင့်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) Filand Co., Ltd

(၃) ရုံးလက်ခံ

(၄) မျှော

သား သေဆုံးခြင်းကို ဖြစ်စေနိုင်သည့်အပြင် Aquatic organism များကိုလည်း ပျက်ဆီးစေနိုင်ပါသည်။ Formaldehyde သည် International Agency for Research on Cancer (IARC-1995)၏ သတ်မှတ်ချက်အရ 0.007 ppm ကို ကြာရှည်စွာ ထိတွေ့ပါက ကင်ဆာရောဂါ ဖြစ်စေနိုင်ကြောင်း ဖော်ပြပါရှိပါသည်။ လုပ်ငန်းခွင်အတွင်း လက်ခံနိုင်သည့် အများဆုံးပမာဏမှာ 0.3 ppm သာဖြစ်ပါသည်။ Tetra chloroethylene သည် IARC ၏ သတ်မှတ်ချက်အရ group II-A Carcinogen ဖြစ်ပြီး ၎င်းကြောင့် အာရုံကြောများ ပျက်ဆီးခြင်း၊ အသည်း၊ ကျောက်ကပ်တွင် ကင်ဆာဖြစ်ပွားခြင်း၊ အသက်အန္တရာယ်ဖြစ်စေနိုင်သည့် အဆိပ်ငွေ့များထွက်နိုင်ခြင်းစသည့် အန္တရာယ်များ ရှိပါသည်။ Fur Dressing အတွက် အသုံးပြုမည့် Lanadol KFN နှင့် Pelfour 200/3 Kicking oil တို့ကိုလည်း (၁၀)နှစ်အတွင်း တန်ချိန် (၄၃၅၀) နှင့် (၁၉၅၀)တင်သွင်းမည်ဖြစ်ရာ ယင်းသည်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုအန္တရာယ်ကို ဖြစ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Filand Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုနှင့်ပတ်သက်၍ ခွင့်ပြုနိုင်ရန်အတွက် ဓာတုပစ္စည်းတင်သွင်းမှု၊ အသုံးပြုမှုကြောင့် ဖြစ်ပေါ်နိုင်သည့် ဆိုးကျိုးများအား ထည့်သွင်းစဉ်းစားသင့်ပါကြောင်း တင်ပြအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်

**ပြည်ထောင်စုဝန်ကြီးရုံး**
<u>စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန</u>

မိတ္တူကို
- ညွှန်ကြားရေးမှူး(စီမံ)၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- မျှောစာတွဲ
- လက်ခံစာတွဲ

NPT. 2541
26.9.2016

M-1550
၂၇.၉.16

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## CMP လုပ်ငန်းများကြီးကြပ်ရေးကော်မတီ

စာအမှတ်၊ ၃၄/အလ/ခွဲ(၂)၂၀၁၆(၉၅၂)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Filand Co., Ltd မှ CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်ဖြည့်စိစစ်ချက် ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂-၉-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၃/န- ၁၃၀၇/၂၀၁၆(၁၂၀၅-ဃ)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ အနော်ရထာစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၀)၊ မြေကွက်အမှတ်(F-5)ရှိ Filand Co., Ltd သည် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနှင့် CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်း လုပ်ငန်း အဆိုပြုလွှာထပ်မံစိစစ်ချက် ပေးပို့လာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ဆောင်ရွက်ချက်ကို အောက်ပါ အတိုင်း တင်ပြအပ်ပါသည်-

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ | ဒေါ်မို့မို့သွင် | CMP လုပ်ငန်းများ မြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့၊ ဥက္ကဋ္ဌ ညွှန်ကြားရေးမှူး၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန | လက်ခံနိုင်ပါသည်။ | |

22/9/2016

ဥက္ကဋ္ဌ(ကိုယ်စား)

(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)

D:\NPT(ET)\2016\CMP & MIC\CMP(9-2016)\TO MIC.docx

MIC

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**
**မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန**
**ညွှန်ကြားရေးမှူးချုပ်ရုံး**

စာအမှတ်၊ ညကခ/သထ/Filand/၂၀၁၆(၂၄၄၈)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၄ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ (၉-၈-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၃/၃၀၀၀/မွေးရေကျေး (၉၃၁/၂၀၁၆)

၁။ ကနေဒါနိုင်ငံမှ Filand Enterprise Inc. သည် ၈၀% နှင့် မြန်မာနိုင်ငံမှ Chan Myae Kywe Group Co., Ltd. သည် ၂၀% ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Filand Co., Ltd. တည်ထောင်ကာ သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်းတွင် Chemical အသုံးပြုခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ ကုမ္ပဏီမှ Beaver, Raccon, Mink, Fox, Coyote, Muskrat သားရေများကို (၁၀)နှစ်အတွင်း (၃၅၈၄၀)ချပ် တင်သွင်းမည်ဖြစ်ပြီး ၎င်းတို့ကို Chemical treatment ပေးရန် Strong acid and Alkali (၁၃)မျိုး၊ Dynes and other chemical for leather tanning အတွက် (၃၀)မျိုး၊ စုစုပေါင်း chemical (၄၃)မျိုး တင်သွင်းမည်ဖြစ်ပါသည်။ ၎င်း chemical များထဲမှ လူထုကျန်းမာရေးအတွက် ထိခိုက်နိုင်သည့် ဓာတုပစ္စည်းအချို့၏ တင်သွင်းမည့်ပမာဏမှာ (၁၀)နှစ်အတွက်-

| | |
|---|---|
| - Formic acid | (၁၇၁)တန် |
| - Acetic acid | (၇၄)တန် |
| - Hydrogen peroxide | (၂၆)တန် |
| - Potassium Dichromate | (၃၆)တန် |
| - Formaldehyde | (၅၇)တန် |
| - Tetra chloroethylene | (၄၅၇)တန် |
| **စုစုပေါင်း** | **(၈၂၁)တန်** - ဖြစ်ပါသည်။ |

၃။ ၎င်းတွင် Formic acid သည် အပူ၊ acid ပြင်းတို့နှင့် ထိတွေ့ပါက CO gas ထွက်နိုင်ပါသည်။ Acetic acid သည် မီးလောင်လွယ်ပြီး အသားအရေကို ပူစပ်သည့်အန္တရာယ် ဖြစ်စေပါသည်။ $H_2O_2$ သည် မီးလောင်လွယ်ပြီး ၄၀% ကျော်ပါက ပတ်ဝန်းကျင်ကို ပျက်စီးစေပါသည်။ Potassium Dichromate ($K_2Cr_2O_7$)သည် ပြင်းထန်သော အရေပြားရောင်ရမ်းမှုကို ဖြစ်စေနိုင်ပါသည်။ ၎င်းသည် အဆိပ်အတောက်ဆိုင်ရာ လေ့လာမှုအရ လောင်စားနိုင်ခြင်း၊ ကင်ဆာဖြစ်စေနိုင်ခြင်း၊ မျိုးပွားမှုကို ထိခိုက်ခြင်းနှင့် သန္ဓေ

| ထုတ်လုပ်မည့်ပစ္စည်း အမျိုးအမည် | ကုန်ထုတ် စက် | တစ်ရက် ထုတ်လုပ်နိုင်မှု | တစ်နှစ်ထုတ်လုပ် မှု (၃၁၀) ရက် |
|---|---|---|---|
| 1. (၈)မျိုး 1900000pcs | (၆၀)လုံး | 5400 pcs/10 hour | 1674000 pcs |

အဆိုပြုချက်ပါ ထုတ်လုပ်မှုနှင့် နှိုင်းယှဉ်လျှင် ထုတ်လုပ်မှု ပြည့်မီရန် အနည်းငယ် လိုအပ်သဖြင့် စက်အလုံးရေ အနည်းငယ် ထည့်သွင်းမှသာ ထုတ်လုပ်နိုင်မည်ကို တွေ့ရှိရ၍ ပြင်ဆင်တင်ပြသင့်ပါသည် -

| ထုတ်လုပ်မည့်ပစ္စည်း အမျိုးအမည် | အဆိုပြု ထုတ်လုပ်မှု အရေအတွက် | တစ်နှစ်ထုတ်လုပ်နိုင်မှု ပမာဏ(ထည်) |
|---|---|---|
| 1. (၈)မျိုး | 1900000 pcs | 1674000- 1674500 pcs |

၃။ သို့ဖြစ်ပါ၍ Filand Co.,Ltd အား ပြင်ဆင်တင်ပြသင့်သည်များကို ပြင်ဆင်တင်ပြစေပြီး မှသာ ခွင့်ပြုသင့်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲမှုလျှော့ချရေးကို အထောက်အကူပြုနိုင်မည် ဖြစ်၍ CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်း လုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ပါကြောင်း တင်ပြ အပ်ပါသည်။

၁၀/၈/၂၀၁၆

ဥက္ကဋ္ဌ(ကိုယ်စား)
(မောင်မောင်ကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)
(အလုပ်သမား၊လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန)

မိတ္တူကို
ညွှန်ကြားရေးမှူး၊ တိုင်းဒေသကြီးဦးစီးမှူး
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(ရန်ကုန်တိုင်းဒေသကြီး၊ CMP လုပ်ငန်းများမြေပြင်ကွင်းဆင်းစစ်ဆေးရေးအဖွဲ့)
အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
Filand Co.,Ltd
ရုံးလက်ခံ
မျှောစာတွဲ

အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
(CMP လုပ်ငန်းများ စစ်ဆေးရေးဆပ်ကော်မတီ)
Filand Co., Ltd
ရုံးလက်ခံ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈ | စာအမှတ်၊မရက- ၃/န-၁၃၁၇/၂၀၁၆ (၁၂၀၅-၈)

ဖက်(စ်) - ၀၁-၆၅၈၁၄၁ | ရက်စွဲ ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၁၂ ရက်

**အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်**

M-1549
27.9.16

၁။ Filand Company Limited မှ CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုချက် အပေါ် ဌာန၏ လမ်းညွှန်ချက်နှင့်အညီ ပြန်လည်ပြင်ဆင်တင်ပြလာပါသည်။

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | စက်မှုဝန်ကြီးဌာန | (တင်ဝင်း) လက်ထောက်အတွင်းဝန် (ညွှန်ကြားရေးမှူး) စက်မှုဝန်ကြီးဌာန | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | (signature) |
| ၂ | အမှတ် (၃) အကြီးစား စက်မှုလုပ်ငန်း | ဦး ‌အောင် ‌ဆွေ ‌ဆွေ | ‌ဒါိုး ၊ ‌ဓေ ၊ ခန်ရေ | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | (signature) |

၂။ ၎င်းပြင်ဆင်ချက်ကို အထက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

12.9.2016

အတွင်းရေးမှူး(ကိုယ်စား)

(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

Checking to Ministries

NPT-2713
12.10.2016

M-1640
13/10

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၁၁၃၇/၂၀၁၆)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၁၁ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂-၉-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရက-၃/ န-၁၃၁၇/ ၂၀၁၆ (၁၂၀၅-ခ)

(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၇-၁၀-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ညကခ/သထ/ MIC/ ၂၀၁၆ (၇၉၆)

၁။ Filand Company Limited မှ CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည် ချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများကြောင့် လူနှင့်တိရစ္ဆာန်၊ သဘာဝ ပတ်ဝန်းကျင်များအား ထိခိုက်မှုအန္တရာယ် ကာကွယ်တားဆီးရေးဆောင်ရွက်မည့် အစီအမံများ အား ပြန်လည်ပြင်ဆင် တင်ပြလာခြင်းအပေါ် စိစစ်မှတ်ချက်ပြုပေးရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Filand Company Limited ၏ သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းများ အသုံးပြုမှုနှင့်ပတ်သက်၍ ၂၀၁၃ ခုနှစ်၊ ပြည်ထောင်စုလွှတ်တော် ဥပဒေ အမှတ် (၂၈)ဖြင့် ပြဋ္ဌာန်း ခဲ့သော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေး ဥပဒေနှင့်အညီ စနစ်တကျ ပြန်လည် စိစစ်သင့်ပါကြောင်းနှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိပါကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်း ချက်(၂) ပါစာဖြင့် စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် ၂၀၁၃ ခုနှစ်၊ ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ် (၂၈)ဖြင့် ပြဋ္ဌာန်းခဲ့သော ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ စနစ်တကျပြန်လည်စိစစ် သင့်ပါကြောင်းနှင့်

ညီညွတ်ပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) Filand Co., Ltd

(၃) ရုံးလက်ခံ

(၄) မျှော

၂

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံး

စာအမှတ်၊ ညကခ/သထ/MIC/၂၀၁၆ ( ၇၉၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာလ ၄ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၂-၉-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရက-၃/န-၁၃၁၇/၂၀၁၆(၁၂၀၅-ခ)

(၂) ပြည်ထောင်စုဝန်ကြီးရုံး၏ (၂၂-၉-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ၃/၃၀၀၀/ မွေးရေကျေး (၁၀၉၀/၂၀၁၆)

၁။ Filand Company Limited မှ CMP စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးအထည်ချုပ်လုပ်ခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ သဘောထားမှတ်ချက်အရ လုပ်ငန်းတွင် အသုံးပြုသော ဓါတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများကြောင့် လူနှင့်တိရစ္ဆာန်၊ သဘာဝပတ်ဝန်းကျင်များအား ထိခိုက်မှု အန္တရာယ်ကာကွယ်တားဆီးရေးဆောင်ရွက်မည့် အစီအမံများအား ပြန်လည်ပြင်ဆင် တင်ပြလာခြင်းအပေါ် စိစစ်တင်ပြရန် ရည်ညွှန်းပါစာများဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Filand Company Limited ၏ သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးအထည်ချုပ်လုပ်ခြင်းလုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းများအသုံးပြုမှုနှင့်ပတ်သက်၍ ၂၀၁၃ခုနှစ်၊ ပြည်ထောင်စုလွှတ်တော် ဥပဒေအမှတ် (၂၈) ဖြင့် ပြဋ္ဌာန်းခဲ့သော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ စနစ်တကျပြန်လည်စိစစ်သင့်ပါကြောင်းနှင့် ညီညွှတ်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်-

| စဉ် | ဌာန | စိစစ်သူ | | စိစစ် ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁။ | မွေးမြူရေးနှင့် ကုသရေးဦးစီးဌာန | ဒေါက်တာရဲထွန်းဝင်း | ညွှန်ကြားရေးမှူးချုပ် | ပြန်လည်စိစစ်ရန်လိုအပ်ပါသည်။ | (လက်မှတ်) |

(လက်မှတ်)

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်

**ပြည်ထောင်စုဝန်ကြီးရုံး**
<u>စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန</u>

၁၅၅၁
၁၁/၁၀/၂၀၁၆

NPT 3335
6.12.16

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

M-190
7.12.16

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၂၃၀၁)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၁၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၃ / န-၁၃၁၇ / ၂၀၁၆ (၁၄၁၆)

၁။ Filand Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Contract Manufacturing Process (CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းအား စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ **"၂၀၁၃ ခုနှစ် ပြည်ထောင်စုလွှတ်တော်ဥပဒေအမှတ်(၂၈)ဖြင့် ပြဋ္ဌာန်းခဲ့သော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်အညီ စနစ်တကျ ပြန်လည်စိစစ်သင့်ပါကြောင်းနှင့် ညီညွတ်ပါက ကန့်ကွက်ရန်မရှိပါကြောင်း"** သဘောထားမှတ်ချက် ပြန်ကြားခြင်းအပေါ် စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) သားမွေးထည် ထုတ်လုပ်ခြင်းလုပ်ငန်းမှာ တိရိစ္ဆာန်များ၏ အညစ်အကြေးများတွင် Nitrogen နှင့် Phpsphorus ပါဝင်မှုနှုန်း မြင့်မားခြင်းကြောင့် ရေထုညစ်ညမ်းမှုဖြစ်ပေါ်စေခြင်း၊ သားမွေးအမှုန့်အမွှားနှင့် အနံ့အသက်ဆိုးများကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်စေခြင်း၊ အဆိပ်အတောက်ဖြစ်စေသော ဓာတုပစ္စည်းများအား အသုံးပြုဆောင်ရွက်ရခြင်းဖြစ်၍ စက်ရုံမှ စွန့်ပစ်သော အညစ်အကြေးပစ္စည်းများကြောင့် မြေထုညစ်ညမ်းမှုကိုပါ ဖြစ်စေနိုင်သောကြောင့် ပြည်သူလူထု၏ ကျန်းမာရေးနှင့် သဘာဝပတ်ဝန်းကျင် ဂေဟစနစ်အား ထိခိုက်အန္တရာယ်ဖြစ်စေနိုင်သောလုပ်ငန်း ဖြစ်ပါသည်။

(ခ) ၎င်းလုပ်ငန်း၏ လုပ်ငန်းစဉ်အဆင့်တိုင်းနှင့် ပစ္စည်းသိုလှောင်ခန်းများမှာ သတ်မှတ်အပူချိန်နှင့် စိုထိုင်းဆအတိုင်း အတိအကျလိုက်နာဆောင်ရွက်ရသောလုပ်ငန်းဖြစ်၍ စွမ်းအင်အသုံးပြုမှု မြင့်မားသောကြောင့် မီးဘေးအန္တရာယ် စိုးရိမ်ရပါသည်။

(ဂ) ကုမ္ပဏီမှ လုပ်ငန်းအတွက် အသုံးပြုမည့် ဓာတုပစ္စည်းအမျိုးအစားပေါင်း(၄၃) မျိုးမှာ ကန့်သတ်ဓာတုပစ္စည်းနှင့် တားမြစ်ဓာတုပစ္စည်းများစာရင်းတွင် ပါဝင်ခြင်းမရှိသော်လည်း အသုံးပြုဆောင်ရွက်မည့် ဓာတုပစ္စည်းများတွင် အန္တရာယ်ထိန်းချုပ်ကာကွယ်ခြင်းနှင့် လျော့ပါးစေရေး ဆောင်ရွက်ရန်လိုအပ်သည့် Tetra-chloroethane, Formaldehyde, Hydrogen Peroxide,Formic Acid, Acetic Acid, Potassium Dichromate, Sodium Carbonate စသည့် ဓာတုပစ္စည်းများနှင့် အခြားသော သာမန်ဓာတုပစ္စည်းများ ပါဝင်ပါသည်။

(ဃ) သားမွေးထုတ်လုပ်ခြင်း လုပ်ငန်းစဉ်တစ်လျှောက်တွင် ဝန်ထမ်းလုပ်သားများ၏ လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းစေရန် အသုံးပြုမည့်ဓာတုပစ္စည်းများ၏ အန္တရာယ်ထိန်းချုပ်ကာကွယ်လျော့ပါးရေး ဆောင်ရွက်မည့် အစီအမံများအား စနစ်တကျ ကြိုတင်သတ်မှတ်ဆောင်ရွက်ရန် အရေးကြီးပြီး လုပ်ငန်းခွင် လုံခြုံမှုရှိသော ကာကွယ်ရေးဝတ်စုံ၊ နှာခေါင်းစည်း၊ လက်အိတ်၊ သားရေလည်ရှည်ဖိနပ် စသည့် အကာအကွယ်ပြုကိရိယာများ သုံးစွဲစေခြင်း၊ ကျန်းမာရေးစောင့်ရှောက်မှု၊ တစ်ကိုယ်ရေသန့်ရှင်းမှုနှင့် လေဝင်လေထွက်ကောင်းစေသော နည်းစနစ်များ ဆောင်ရွက်ပေးခြင်း၊ ဓာတုပစ္စည်းများ၏အန္တရာယ်အား သိရှိနားလည်စေရန် သင်တန်းပို့ချခြင်းများအပြင် မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးတို့အတွက် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) သားမွေးထည်လုပ်ငန်းဖြစ်၍ လေထုညစ်ညမ်းစေမည့် သားမွေးအမှုန်အမွှား၊ အနံ့အသက်များအား ထိန်းသိမ်းသည့်စနစ်ကို အလေးထားဆောင်ရွက်ရန်၊ စက်ရုံအတွင်း/အပြင် သန့်ရှင်းရေး၊ အနံ့အသက် ကင်းစင်ရေးအတွက် စွန့်ပစ်ရေဆိုးများအား Treatment System ဖြင့် စနစ်တကျစွန့်ပစ်ခြင်း၊ ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့်နည်းဥပဒေ ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့်နည်းဥပဒေ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှင့်မှု)လမ်းညွှန်ချက်များ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများအပြင် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေတို့နှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Filand Co.,Ltd. မှ Contract Manufacturing Process (CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင် ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာခြင်းအပေါ် အထက်ဖော်ပြပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန

ရုံးလက်ခံ

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်အတွင်း

နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

ပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ဖိုင်လင်းကုမ္ပဏီလီမိတက်

❖ ❖ ❖ ❖ ❖ ❖ ❖

**PROPOSAL OF THE PROMOTER TO MAKE**

**FOREIGN INVESTMENT IN THE**

**REPUBLIC OF THE UNION OF MYANMAR**

# FILAND COMPANY LIMITED

**FUR DRESSED GARMENT FACTORY (CMP)**

သို့

အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဒီဇင်ဘာ လ ၁၂ ရက်

အကြောင်းအရာ။ **အဆိုပြုသားမွေးလုပ်ငန်းနှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်ပတ်သက်၍ ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၁၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၃/န-၁၃၁၇/၂၀၁၆(၁၅၈၇)

၁။ Filand Company Limited မှ အဆိုပြုတင်ပြထားရှိသော Contract Manufacturing Process(CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်အဆိုပြုလွှာအပေါ် စက်မှုဝန်ကြီးဌာနမှ **အဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့်ဓာတုပစ္စည်းများသည် ပြည်သူလူထု၏ ကျန်းမာရေးနှင့် သဘာဝပတ်ဝန်းကျင် ဂေဟစနစ်အား ထိခိုက်အန္တရာယ်ဖြစ်စေနိုင်ပါကြောင်း၊ စွမ်းအင်အသုံးပြုမှု မြင့်မားသောကြောင့် မီးဘေးအန္တရာယ်စိုးရိမ်ရပါကြောင်း၊ မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေးတို့အတွက် စနစ်တကျဆောင်ရွက်ရန်၊ ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့် နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့် နည်းဥပဒေ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှင့်မှု)လမ်းညွှန်ချက်များ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများအပြင် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေတို့နှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန်** သဘောထား ပြန်ကြားလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ လိုအပ်သည်များဆောင်ရွက်၍ ပြန်လည်တင်ပြရန် အကြောင်းကြားလာခဲ့ပါသည်။

၂။ Filand Company Limitedမှ လုပ်ငန်းတွင် အသုံးပြုသော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများကြောင့် လူနှင့်တိရစ္ဆာန်၊ သဘာဝပတ်ဝန်းကျင်များအား ထိခိုက်မှုအန္တရာယ်ကာကွယ်တားဆီးရေး၊ မီးဘေးအန္တရာယ်ကာကွယ်ရေးဆောင်ရွက်မည့် အစီအမံများအား ပူးတွဲပါအတိုင်း တင်ပြအပ်ပါသည်။

ပူးတွဲပါ။ ဆောင်ရွက်မည့် အစီအမံများ (၁)စောင်။

လေးစားစွာဖြင့်

Ye Myint
Director
Filand Company Limited

# Filand Co, Ltd., ၏ သားမွေးထည်ထုတ်လုပ်ခြင်းလုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းများအကြောင်းနှင့် အန္တရာယ်ထိန်းချုပ်ကာကွယ်လျော့ပါးရေး၊ မီးဘေးအန္တရာယ်ကာကွယ်ရေးဆောင်ရွက်မည့် အစီအမံများ

၁။ Filand Co, Ltd., မှ (CMP) စနစ်ဖြင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း( Initial Environmental Examination- IEE )ကို ဆောင်ရွက်ရန်နှင့် အစီရင်ခံစာရေးသားရန်၊ ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan- EMP ) ရေးဆွဲရေးကိစ္စများအား ဆောင်ရွက်ရန်အတွက် သယံဇာတနှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန အသိအမှတ်ပြု အဖွဲ့အစည်းတစ်ခုဖြစ်သော Development Management and Technology Co., Ltd. နှင့် လုပ်ငန်းအပ်နှံမှုကိစ္စ ညှိနှိုင်းဆောင်ရွက်လျက်ရှိပြီး ပြည်သူလူထု၏ ကျန်းမာရေးနှင့် သဘာဝပတ်ဝန်းကျင် ဂေဟစနစ်အား ထိခိုက်မှုမရှိစေရန် ဆောင်ရွက်လျက်ရှိပါသည်။

၂။ အဆိုပြုသားမွေးလုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများကို ကျွမ်းကျင်သူများနှင့် စိစစ်လေ့လာချက်အရ အောက်ပါအတိုင်း တွေ့ရှိရပါသည်-

(က) အန္တရာယ်ထိန်းချုပ်ကာကွယ်ခြင်းနှင့် လျော့ပါးစေရေးဆောင်ရွက်ရန် လိုအပ်သော ဓာတုပစ္စည်းများ-

(၁) Tetrachloromethane
(၂) Formaldehyde
(၃) Hydrogen Peroxide
(၄) Formic Acid
(၅) Acetic Acid
(၆) Potassium Dichromate
(၇) Sodium Carbonate

(ခ) သာမန်ဓာတုပစ္စည်းများ။

၃။ အထက်ပါတွေ့ရှိချက်အရ အန္တရာယ်ထိန်းချုပ်ကာကွယ်ခြင်းနှင့် လျော့ပါးစေရေးဆောင်ရွက်ရန် လိုအပ်သော ဓာတုပစ္စည်းများအနက် Tetrachloromethane မှာ အခြောက်လျှော်ခြင်း၊ အခြောက်ဆေးကြောသန့်ရှင်းခြင်း စသောလုပ်ငန်းများတွင် သုံးစွဲလျက်ရှိပြီး ရေသန့်ဘူးများဆေးကြောရာတွင် စက်ဖြင့်တွဲ၍ သုံးစွဲလျက်ရှိပါသည်။ မိမိတို့လုပ်ငန်းတွင် သားမွေးသားရေထည်ကို အခြောက်လျှော်ခြင်း၊ သန့်စင်စေခြင်းလုပ်ငန်းတွင် အခြောက်လျှော်စက် အတွင်းထည့်သွင်း အသုံးပြုပါသည်။ အသုံးပြုမှု ပမာဏနည်းစေရန် သတ်မှတ်အချိန်တစ်ခုအထိ အကြိမ်ကြိမ် ပြန်လည်၍ Recycle ပြုလုပ်အသုံးပြုပါသည်။ ရေနှင့် ရောစပ်အသုံးပြုခြင်းမရှိသဖြင့် စွန့်ပစ်ရေတွင် ပါဝင်ခြင်းမရှိပါ။

၄။ Formaldehyde မှာ ဆေးရုံသုံးအဆင့်ကိုသာ အသုံးပြုခြင်းဖြစ်ပြီး ခေါင်းလျှော်ရည်တွင် အရေးကြီးသော အစိတ်အပိုင်းတစ်ရပ်အနေဖြင့် ပါဝင်လေ့ရှိပါသည်။ မိမိတို့ လုပ်ငန်းတွင် အန္တရာယ်ရှိမှုပြင်းအားနိမ့်သော Formaldehyde ကိုသာ အသုံးပြုပြီး သားမွေးသားရေများအား ရေတွင်စိမ်၍ ရောဂါပိုးမွှား ကင်းစင်စေရန် သန့်စင်ခြင်းနှင့် ပိုးသတ်ရာတွင် အသုံးပြုပါသည်။ လုပ်ငန်းခွင် လုံခြုံမှုရှိသော Steel ကန်များတွင် အသုံးပြုသူများအား ကိုယ်ခန္ဓာ

ကာကွယ်ရေးဝတ်စုံ၊ ကိရိယာများ( Chemical Safety အဆင့် နှာခေါင်းစီး၊ လက်အိတ်များ)ဖြင့် အကာအကွယ်ပြု သုံးစွဲပါမည်။

၅။ ဆေးရုံများတွင် ဒဏ်ရာများဆေးကြောရာတွင် အသုံးပြုသည့် Hydrogen Peroxide မှာ မိမိတို့ သားမွေး လုပ်ငန်းတွင်လည်း ချေးချွတ်ခြင်းနှင့် အနံ့အသက်ကင်းစင်စေရန်အတွက် အသုံးပြုခြင်းဖြင့် အနံ့ဆိုးများမရှိတော့ဘဲ ထွက်ရှိလာမည့် သားမွေးအမှုန်အမွှားများအား ဖုန်စုပ်သည့် စက်ကရိယာများဖြင့် စုပ်ယူဆောင်ရွက်ခြင်းဖြင့် လေထုညစ်ညမ်းမှုအတွက် ကာကွယ်တားဆီးပါမည်။ အဆိုပြု သားမွေးလုပ်ငန်းတွင် ဂရိနိုင်ငံမှ ဒီဇိုင်းထုတ် အသုံးပြုသော ရေဆိုးသန့်စင်စနစ်လည်းပါဝင်ပြီး အသုံးပြုသောရေကို ရေအရင်းအမြစ် ချွေတာသည့်အနေဖြင့် အချိန်ကာလတစ်ခုအထိ Recycle ပြုလုပ်အသုံးပြုပါသည်။ ရေတွင်ပါဝင်သော အညစ်အကြေး၊ အနည်အနှစ်များကို အထူးစီမံပြုလုပ်ထားရှိသော ဇကာများဖြင့် စစ်ယူပါသည်။ ရရှိသော အညစ်အကြေး အနည်အနှစ်များအား Boiler တွင် မီးရှို့ဖျက်ဆီးပါသည်။ ကျန်ရေဆိုးများကို Water Treament System အရ သန့်စင်ပြီး စွန့်ပစ်ပါမည်။ စွန့်ပစ်ရေတွင် အပင်စိုက်ပျိုးခြင်းနှင့် ငါးမွေးမြူစမ်းသပ်ရာ အပင်ရှင်သန်၍ငါးများအသက်ရှင်သည်ကို စိစစ်တွေ့ရှိရပါသည်။

၆။ Formic Acid, Acetic Acid တို့မှာ Organic Acid များဖြစ်ပြီး လူများစားသုံးသည့် အချို့သော အစား အသောက်များ ( ဥပမာ- ဒိန်ချဉ်၊ ရှာလကာရည်များ)တွင် ထည့်သွင်းအသုံးပြုသည့် Acid အပျော့စားအဆင့်သာ ဖြစ်ပါသည်။သားမွေးသားရေများ ပျော့ပြောင်းစေရန်နှင့် အဆီချွတ်ရာတွင် အသုံးပြုခြင်းဖြစ်ပါသည်။ Potassium Dichromate, Sodium Carbonate တို့မှာ အရောင်ချွတ်ရာတွင် အသုံးပြုသည့်ပစ္စည်းဖြစ်ပြီး ပြင်းအား ပျော့သော ဓာတုပစ္စည်းများအဆင့်ဖြင့်သာ အသုံးပြုခြင်းဖြစ်ပါသည်။

၇။ ဓာတုပစ္စည်းများအသုံးပြုခြင်းလုပ်ငန်းဆိုင်ရာများတွင် ကနဦး၌ ပြည်ပမှပညာရှင်များဖြင့် ဆောင်ရွက်မည် ဖြစ်ပြီး ပြည်တွင်းလုပ်သားများအား ဆင့်ပွားသင်ကြားပေးခြင်းဖြင့် Scale Technician များအဖြစ် ရောက်ရှိသည်အထိ လက်ဆင့်ကမ်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၈။ မိမိတို့ကုမ္ပဏီအနေဖြင့် စက်ရုံအတွင်း တာဝန်ထမ်းဆောင်သူများအားလုံး၊ ပတ်ဝန်းကျင်ရှိ လူနှင့် တိရစ္ဆာန်များကိုလည်းကောင်း၊ ပတ်ဝန်းကျင်ကိုလည်းကောင်း ဘေးအန္တရာယ်ထိခိုက်မှု မရှိစေရန်အတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ စက်မှုဝန်ကြီးဌာနမှ ၂၀၁၃ ခုနှစ်၊ဩဂုတ်လ(၂၆)ရက်တွင် ထုတ်ပြန်ထားသော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့် ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ(၁၂)ရက်တွင် ထုတ်ပြန်ထားသည့် နည်းဥပဒေပါ သတ်မှတ်ချက်များအား အောက်ပါအတိုင်း လိုက်နာဆောင်ရွက်သွားပါမည်-

(က) ကမ္ဘာ့အဆင့်အတန်းမီ ISO လက်မှတ်ရ ကုမ္ပဏီ(၃)ခုမှ အမျိုးအစားကောင်းသော Chemical များကိုသာ ဝယ်ယူ၍ သယ်ယူပို့ဆောင်ပုံ၊ ထားသိုပုံ၊ အသုံးပြုပုံ လမ်းညွှန်ချက်များအားရယူ၍ သုံးစွဲသွားမည်။

(ခ) ဓာတုပစ္စည်း (သို့မဟုတ်) ဆက်စပ်ပစ္စည်းများဆိုင်ရာ လုပ်ငန်းလုပ်ကိုင်ရန် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ လုပ်ငန်းစီမံချက်နှင့်အတူ Licence လျှောက်ထားရယူသွားပါမည်။

(ဂ) လုပ်ငန်းဆောင်ရွက်ရာတွင်ပါဝင်သည့် ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအား ဤဥပဒေအရ ဗဟိုကြီးကြပ်ရေးအဖွဲ့ထံ မှတ်ပုံတင်၍ မှတ်ပုံတင်လက်မှတ်ပါရှိသော ဓာတုပစ္စည်းများကိုသာ သုံးစွဲ ပါမည်။

(ဃ) မှတ်ပုံတင်ထားခြင်းမရှိသော၊ အမှတ်တံဆိပ်မပါရှိသော၊ အမျိုးအမည်မသိရှိသော၊ ပျက်စီးနေသော သို့မဟုတ် သက်တမ်းလွန်နေသော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအား အသုံးမပြုရန် တားမြစ်ချက်ကို လိုက်နာဆောင်ရွက်ပါမည်။

(င) သိုလှောင်ရာတွင်အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ပါမည်-

(၁) သိုလှောင်မည့်အဆောက်အဦသည် မီးသတ်ဦးစီးဌာန၏ သတ်မှတ်ပြဋ္ဌာန်းချက်များနှင့်အညီ မီးဘေးလုံခြုံရေးစနစ်များ ထည့်သွင်းတပ်ဆင်ခြင်းနှင့် ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ ထားသိုရေးအတွက် စံချိန်စံညွှန်းနှင့်အညီ တည်ဆောက်ပြီး ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းအမျိုးအစားများအလိုက် လိုအပ်သော မီးသတ်စနစ်၊ မီးဘေးကြိုတင်ကာကွယ်ရေးပစ္စည်းများနှင့် မီးငြိမ်းသတ်ရေးပစ္စည်းများကို ဝင်ပေါက်ထွက်ပေါက်လမ်းများနှင့် အနီးဆုံးနေရာများတွင် အလွယ်တကူအသုံးပြုနိုင်ရန် လုံလောက်စွာ ထားရှိပါမည်။

(၂) အန္တရာယ်အဆင့်အလိုက် သတိပေးအမှတ်အသားများကပ်ခြင်းနှင့် လုံခြုံရေးကိရိယာများကို သိုလှောင်သောနေရာများတွင် ထားရှိပါမည်။

(၃) ထုတ်ပြန်ထားသော အမျိုးသားအဆင့် ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ စာရင်းတွင် ပါဝင်သောပစ္စည်းများကို ထုပ်ပိုးမှုစနစ်များအား သေချာစွာ စစ်ဆေးပြီးမှသိုလှောင်ပါမည်။

(၄) နီးကပ်စွာထားရှိပါက ဓာတ်ပြုပြီးအန္တရာယ်ရှိလာနိုင်သော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများကို သီးခြားစီခွဲခြားထားရှိပါမည်။

(၅) သိုလှောင်ထိန်းသိမ်းမည့်နေရာသည် အေး၍ခြောက်သွေ့ပြီး လေဝင်လေထွက်ကောင်းမွန်စေခြင်းနှင့် နေရောင်ခြည်တိုက်ရိုက် ထိတွေ့မှုမရှိစေရေး ဆောင်ရွက်ပါမည်။

(၆) ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများကို အပူစွမ်းအင်ထွက်သည့်နေရာ အစားအစာထားသိုသည့်နေရာ အနီးတွင် ထားသိုမှုမပြုခြင်းနှင့် ယင်းနေရာအနီးတွင် အစားအသောက် စားသောက်မှုမရှိစေရေး ဆောင်ရွက်ပါမည်

(၇) ဓာတုပစ္စည်းများသိုလှောင်ထားရှိသည့် အခန်းတွင် အပူချိန်ပြကရိယာ၊ လေဖိအားပြကရိယာများ တပ်ဆင်အသုံးပြုပါမည်။

(၈) သိုလှောင်ထိန်းသိမ်းသည့် အဆောက်အဦကို တာဝန်ရှိသော ပုဂ္ဂိုလ်များသာ ဝင်ရောက်စေခြင်းနှင့် ကျွမ်းကျင်သူ (သို့မဟုတ်) သင်တန်းတက်ပြီးသူများကို အနီးကပ် ကြီးကြပ်စေပါမည်။

(၉) ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ ထည့်သော ဘူး၊ ပုလင်း၊ ကတ်ပြား၊ ဘူးခွံများနှင့် ထုပ်ပိုး ပစ္စည်းများ၊ သိုလှောင်ရုံများ၊ သယ်ယူပို့ဆောင်သောယာဉ်များတွင် ဤဥပဒေပါ သတ်မှတ်ချက်များနှင့်အညီ အန္တရာယ်ဖော်ပြချက်သတိပေးအမှတ်အသားများ ကပ်ခြင်းကို လိုက်နာဆောင်ရွက်ပါမည်။

(စ) သက်ဆိုင်ရာစစ်ဆေးရေးအဖွဲ့များ၏ စစ်ဆေးမှုကို (၆)လတစ်ကြိမ် လက်ခံဆောင်ရွက်ပါမည်။

(ဆ) လုပ်ငန်းခွင်အတွင်းလိုက်နာဆောင်ရွက်မှုကို အောက်ပါအတိုင်းပြုလုပ်ပါမည်-

(၁) အန္တရာယ်ကင်းရှင်းရေးညွှန်ကြားချက်များကို ထုတ်ပြန်၍ လုပ်ငန်းတွင် တာဝန်ထမ်းဆောင်သူများအားလုံး တိကျစွာလိုက်နာစေရန် ဆောင်ရွက်ပါမည်။

(၂) စက်ရုံ၏ ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများဆိုင်ရာလုပ်ငန်းတွင် တာဝန်ထမ်းဆောင်မည့်သူများအား ကျန်းမာရေး စစ်ဆေးပေးပြီး ယင်းလုပ်ငန်းတွင် လုပ်ကိုင်ရန် ကျန်းမာရေးနှင့် ညီညွတ်ကြောင်းထောက်ခံချက်ရမှသာ တာဝန် ထမ်းဆောင်စေပါမည်။ ယင်းတို့၏ ကျန်းမာရေးစစ်ဆေးချက်မှတ်တမ်းများကို စနစ်တကျထိန်းသိမ်းထားပါမည်။

(၃) စက်ရုံအတွက် လိုအပ်သော လုံခြုံရေးကိရိယာများ လုံလောက်စွာထားရှိပြီး လုပ်ငန်းတွင် တာဝန်ထမ်းဆောင်သူများ အားလုံးအား ကိုယ်ခန္ဓာကာကွယ်ရေးကိရိယာနှင့် ဝတ်စုံများ၊ နှာခေါင်းစီးများ၊ လက်အိပ်များ လုံလောက်စွာ ထုတ်ပေးပြီး အမှန်တကယ် သုံးစွဲဝတ်ဆင်ရန် ကြီးကြပ်ဆောင်ရွက်ပါမည်။

(၄) တာဝန်ထမ်းဆောင်သူများအား The Occupational Safety Equipment လုပ်ငန်းခွင်လုံခြုံရေးကိရိယာ၊ The Personal ProtectionEquipment ကိုယ်ခန္ဓာကာကွယ်ရေးကိရိယာနှင့် ဝတ်စုံများကို စနစ်တကျသုံးစွဲတတ်စေရန် သင်တန်းပေးခြင်း၊ လေ့ကျင့်သင်ကြားပေးခြင်းနှင့် လိုအပ်သလို ညွှန်ကြားခြင်းများဆောင်ရွက်ပါမည်။

(၅) လူနှင့်တိရစ္ဆာန်များ၏ ကျန်းမာရေးကိုလည်းကောင်း၊ ပတ်ဝန်းကျင်ကိုလည်းကောင်း ဘေးအန္တရာယ် ထိခိုက်နိုင်မှု ရှိ/မရှိ နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာကြီးကြပ်ရေးအဖွဲ့နှင့် စစ်ဆေးရေးအဖွဲ့များ၏ စစ်ဆေးခြင်းကို ခံယူဆောင်ရွက်သွားပါမည်။

(၆) ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများကို ပြည်တွင်းတွင် သက်ဆိုင်ရာ ဆိပ်ကမ်း/လေဆိပ်မှ စက်ရုံသို့ သယ်ဆောင်ရာတွင် သတ်မှတ်ထားသော စည်းကမ်းချက်များနှင့်အညီ ခွင့်ပြုထားသော ပမာဏကိုသာ သယ်ဆောင်ပါမည်။

(၇) ဗဟိုကြီးကြပ်ရေးအဖွဲ့မှ ထုတ်ပြန်သော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ သယ်ယူပို့ဆောင်ရေး၊ သိုလှောင်ရေး၊ သုံးစွဲရေးနှင့် စွန့်ပစ်ရေးဆိုင်ရာ နည်းလမ်းများနှင့် စည်းမျဉ်းစည်းကမ်းများအား လိုက်နာဆောင်ရွက်ပြီး စစ်ဆေးမှုကိုလည်း လက်ခံလိုက်နာဆောင်ရွက်သွားပါမည်။

(ဇ) စွန့်ပစ်ရာတွင် လိုက်နာဆောင်ရွက်မှုကို အောက်ပါအတိုင်းပြုလုပ်ပါမည်-

(၁) ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးနည်းဥပဒေပါ ပြဋ္ဌာန်းချက်များအတိုင်း လိုက်နာဆောင်ရွက်ပါမည်။

(၂) စွန့်ပစ်ပစ္စည်းနှင့် ရေဆိုးရေညစ်များကို သင့်လျော်သော သန့်စင်မှုပြုလုပ်ပြီးမှသာ စွန့်ပစ်ခြင်း ဆောင်ရွက်ပါမည်။

(၃) စွန့်ပစ်ပစ္စည်းများကြောင့် သဘာဝပတ်ဝန်းကျင်ကို ညစ်ညမ်းမှုမရှိစေရေးနှင့် အိုဇုန်းလွှာပျက်စီးခြင်းမှကာကွယ်ရန် နည်းလမ်းများနှင့်အညီ ဆောင်ရွက်ပါမည်။

(၄) ဓာတုပစ္စည်းများကို အသုံးပြုခြင်းမှ ထွက်ရှိလာသည့် စွန့်ပစ်ပစ္စည်းများ၏ စွန့်ပစ်သည့် ပမာဏအား လျှော့နည်းနိုင်သမျှ လျှော့ချခြင်း၊ ပြန်လည်အသုံးပြုရသည့် စွန့်ပစ်ပစ္စည်း များကို Recycle အသုံးပြုခြင်း နည်းလမ်းများဖြင့် အသုံးပြုဆောင်ရွက်ပါမည်။

(၅) အန္တရာယ်ကင်းရှင်းရေးအတွက် စွန့်ပစ်ပစ္စည်းသန့်စင်သည့်စနစ်များကို ပုံမှန်စစ်ဆေးခြင်း၊ ရှောင်တခင်စစ်ဆေးခြင်း၊ သတင်းအရစစ်ဆေးခြင်းတို့ကို ခံယူမည့်အပြင် ယင်းတို့နှင့်သက်ဆိုင်သည့် မှတ်တမ်းများကို စနစ်တကျထိန်းသိမ်းထားရှိပါမည်။

(ဈ) စက်ရုံလုပ်ငန်းမှ ရရှိသောအမြတ်ငွေမှ CSR အဖြစ် အခြားလူမှုအကျိုးပြုလုပ်ငန်းများ ဆောင်ရွက်မှုအပြင် လူနှင့်ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရေးကိစ္စအား တာဝန်တစ်ရပ် အနေဖြင့် သီးသန့်သုံးစွဲဆောင်ရွက်ပါမည်။

(ည) စက်ရုံလုပ်ငန်းနှင့်စပ်လျဉ်း၍ လူနှင့်တိရစ္ဆာန်တို့ကိုသော်လည်းကောင်း၊ ပတ်ဝန်းကျင်ကိုသော် လည်းကောင်း၊ ထိခိုက်ဆုံးရှုံးမှုဖြစ်ပေါ်ပါက လျော်ကြေးပေးနိုင်ရေးအတွက် သတ်မှတ်ချက်များ နှင့်အညီ အာမခံထားရှိ ဆောင်ရွက်ပါမည်။

**Filand Company Limited**

FILAND COMPANY LIMITED

FILAND COMPANY LIMITED
No.....................
Date...................

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၁၄ ရက်

အကြောင်းအရာ။ **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Envirormental Eramination-IEE ) ရေးသားတင်ပြရန်ကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၉-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ဖရက-၃/ န-၁၃၁၇ / ၂၀၁၆ (၁၂၅၉)

Filand Co, Ltd မှ (CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများ တင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြု တင်ပြထားရှိပါသည်။ ထိုသို့ တင်ပြချက်အပေါ် ရည်ညွှန်းစာပါ ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Envirormental Eramination-IEE) ကို ဆောင်ရွက်ရန်နှင့် အစီရင်ခံစာ ရေးသားတင်ပြရန်၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Envirormental Management Plan - EMP) ရေးဆွဲ တင်ပြရန် ကိစ္စများအား ဆောင်ရွက်ရန်အတွက် Filand Co, Ltd အနေဖြင့် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန အသိအမှတ်ပြု အဖွဲ့အစည်းတစ်ခုဖြစ်သော Development Management and Technology Co., Ltd. နှင့် လုပ်ငန်းအပ်နှံမှုကိစ္စများ ညှိနှိုင်းဆွေးနွေးဆဲဖြစ်ပါကြောင်း လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**Ye Myint**
Director
Filand Company Limited.

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ အောက်တိုဘာလ ၁၀ ရက်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၉-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ဖရက-၃/န-၁၃၁၇/၂၀၁၆ (၁၂၅၉)

၁။ Filand Co, Ltd မှ အဆိုပြုတင်ပြထားသော သားမွေးကုန်ကြမ်းများအား (CMP) စနစ်ဖြင့် တင်သွင်း၍ ကုန်ချောအဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုလွှာအပေါ် ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်နှင့် လိုက်နာဆောင်ရွက်စေလိုသော အချက်(၇)ချက်အား ရည်ညွှန်းပါစာဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားလာပါသည်။သဘောထားမှတ်ချက်ပါ အချက်များအား Filand Co, Ltd အနေဖြင့် အောက်ပါအတိုင်း လိုက်နာဆောင်ရွက်သွားပါမည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Respomsibilty-CSR) အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ပါမည်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကို ဝန်ကြီးဌာန အသိအမှတ်ပြု Third Party အဖွဲ့ တစ်ခုထံ အပ်နှံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များအတိုင်း အစီရင်ခံစာရေးသားတင်ပြသွားပါမည်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြ၍စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ပါမည်။

(ဃ) ကုန်ကြမ်းသားမွေးများ တင်သွင်းရာတွင် သက်ဆိုင်ရာကုန်ကြမ်းတင်ပို့သည့်နိုင်ငံများ၏ လုပ်ထုံးလုပ်နည်းနှင့်အညီ တရားဝင်အထောက်အထားများဖြင့် တင်သွင်းပါမည်။

(င) သဘာဝဆင်နှင့် တောရိုင်းတိရစ္ဆာန်များ ထိန်းသိမ်းကာကွယ်ရေးဥပဒေအရ လည်းကောင်း၊ Convention on International Trade in Endangered Species of Wild Fauna and Flora- CITES စာရင်း၏သတ်မှတ်ချက်များမှ ကင်းလွတ်သော ကုန်ကြမ်းသားမွေးများကိုသာ တင်သွင်းမည်ဖြစ်ပြီး သက်ဆိုင်ရာဌာန၏ စိစစ်မှုများနှင့်အညီ ခွင့်ပြုချက်များ ရယူဆောင်ရွက်သွားပါမည်။

(စ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ ရောဂါပိုးမွှားကင်းစင်ကြောင်း ထောက်ခံချက်နှင့် ခွင့်ပြုချက်များ ရယူဆောင်ရွက်သွားပါမည်။

(ဆ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လုပ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ပါမည်။

၂။ သို့ဖြစ်ပါ၍ ရင်းနှီးမြုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်အပေါ် လိုက်နာဆောင်ရွက်မှု အခြေအနေများအား တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးရဲမြင့်
ဒါရိုက်တာ
FILAND CO., LTD

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၅ ရက်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ရှင်းလင်းတင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄-၈-၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၃/န-၁၃၁၇/၂၀၁၆(၁၁၁၂)

၁။ Filand Company Limited မှ အဆိုပြုတင်ပြထားရှိသော Contract Manufacturing Process(CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်အဆိုပြုလွှာအပေါ် စက်မှုဝန်ကြီးဌာနမှ သဘောထားပြန်ကြားလာမှုအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အချက်(၅)ချက် ပြန်လည်ပြင်ဆင်တင်ပြပေးရန် အကြောင်းကြားလာခဲ့မှုအား အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

(က) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်မည်ဖြစ်ပြီး ၄င်းအစီအမံအတွက် လုပ်ငန်းအသားတင်အမြတ်ငွေ၏ (၁ %)သုံးစွဲပါမည်။

(ခ) သားမွေးကုန်ကြမ်းမှ သားမွေးကုန်ချောသို့ ပြုပြင်ထုတ်လုပ်ရာတွင် စံနှုန်းသတ်မှတ်ချက် Norm မရှိပါ။ ကုန်ကြမ်း အရေအတွက်အတိုင်း ကုန်ချောအရေအတွက် တိကျစွာထွက်ရှိပါသည်။ Weight lost (၄၀% မှ ၅၀%)ပြောင်းလဲခြင်းသာ ရှိပါသည်။ လူသုံးအဝတ်အထည် Mink Coat များ ချုပ်လုပ်မှုအတွက် တစ်ထည်လျှင် (35 Pieces) ခန့်နှင့် Strips အတွက် တစ်ထည်လျှင် (3 Pieces) သုံးစွဲရပါသည်။ ၄င်းအတွက် Import ပမာဏနှင့် Export ပမာဏအား ဇယားဖြင့် ပူးတွဲတွက်ချက်တင်ပြအပ်ပါသည်။(နောက်ဆက်တွဲ)

(ဂ) ဓာတုပစ္စည်း သုံးစွဲထုတ်လုပ်သည့် လုပ်ငန်းဖြစ်၍ ဓာတုပစ္စည်းများအား Handling, Storage နှင့် Transportation စသည့် စနစ်အားလုံးတွင် စက်မှုဝန်ကြီးဌာန၏ ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ (၂၆)ရက်တွင် ထုတ်ပြန်ထားသော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေနှင့် ဆက်လက်ထုတ်ပြန်မည့် နည်းဥပဒေ၊ နည်းပညာ လုပ်ထုံးထုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားပါမည်။

(ဃ) Water Treatment System အား နည်းပညာအဆင့်မြင့်ပြီး ကမ္ဘာ့နိုင်ငံများတွင် အသုံးပြုများသော Greek နိုင်ငံမှ နည်းပညာကို အသုံးပြုထားပါသည်။ ကျွမ်းကျင်ပညာရှင်များနှင့်တိုင်ပင်၍ ယခုထက် အဆင့်မြင့်နည်းပညာကို တွေ့ရှိပါက တိုးတက်ပြောင်းလဲ အသုံးပြုသွားပါမည်။

(င) သားမွေးလုပ်ငန်းဖြစ်၍ လေထုညစ်ညမ်းစေမည့် သားမွေးအမှုန်အမွှား၊ အနံ့အသက်များအား ထိန်းသိမ်းသည့် စက်ရုံအတွင်း/အပြင်သန့်ရှင်းရေး၊ အမှိုက်စွန့်ပစ်ရေး၊ အနံ့အသက် ကင်းစင်ရေး

အား စနစ်တကျ စီမံဆောင်ရွက်ပြီး သက်ဆိုင်ရာစစ်ဆေးရေးအဖွဲ့များ၏ စစ်ဆေးမှုကိုလည်း ခံယူဆောင်ရွက်သွားပါမည်။

၂။ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အပေါ် ပြင်ဆင်ဆောင်ရွက်မည့် အစီအမံများအား လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးရဲမြင့်
ဒါရိုက်တာ
FILAND CO., LTD

နောက်ဆက်တွဲ

# FILAND COMPANY LIMITED

## IMPORT & EXPORT POSITION

| Years | Opening | Received (Raw Materials) | Total (Raw Materials) | Export | | | | Closing Balance |
|---|---|---|---|---|---|---|---|---|
| | | | | Processing | Garment | Strip & Accessories | Total | |
| 1st Year | | 1,900,000.00 | 1,900,000.00 | 1,670,000.00 | 7,000.00 | 30,000.00 | 1,707,000.00 | 193,000.00 |
| 2nd Year | 193,000.00 | 3,060,000.00 | 3,253,000.00 | 2,835,000.00 | 35,000.00 | 60,000.00 | 2,930,000.00 | 323,000.00 |
| 3rd Year | 323,000.00 | 3,330,000.00 | 3,653,000.00 | 2,900,000.00 | 280,000.00 | 60,000.00 | 3,240,000.00 | 413,000.00 |
| 4th Year | 413,000.00 | 3,730,000.00 | 4,143,000.00 | 3,515,000.00 | 350,000.00 | 90,000.00 | 3,955,000.00 | 188,000.00 |
| 5th Year | 188,000.00 | 3,850,000.00 | 4,038,000.00 | 2,670,000.00 | 1,050,000.00 | 150,000.00 | 3,870,000.00 | 168,000.00 |
| 6th Year to 10th Year | 168,000.00 | 4,000,000.00 | 4,168,000.00 | 2,720,000.00 | 1,050,000.00 | 150,000.00 | 3,920,000.00 | 248,000.00 |
| **TOTAL** | | **19,870,000.00** | | **16,310,000.00** | **2,772,000.00** | **540,000.00** | **19,622,000.00** | |

**Note;** Mink Coat use 35 pcs per coat.

Strip & Accessories use 3 pcs per no.

သို့

ညွှန်ကြားရေးမှူးချုပ်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၄ ရက်

အကြောင်းအရာ။ **CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ၏ သဘောထားမှတ်ချက်ရှင်းလင်းတင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၈-၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၃/န-၁၃၁၇/၂၀၁၆(၁၀၉၇)

Filand Company Limited မှ အဆိုပြုတင်ပြထားရှိသော Contract Manufacturing Process(CMP) စနစ်ဖြင့် သားမွေးကုန်ကြမ်းများတင်သွင်း၍ ကုန်ချောအဆင့်ဆင့်သို့ ပြုပြင်ထုတ်လုပ်ခြင်းနှင့် သားမွေးထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်အဆိုပြုလွှာအပေါ် CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီမှ သဘောထားပြန်ကြားချက်(၂)ချက်အား ပြန်ကြားလာမှုအပေါ် အောက်ပါအတိုင်း ပြင်ဆင်ရှင်းလင်းတင်ပြအပ်ပါသည်-

(က) ကုန်ကြမ်းမှကုန်ချောထွက်ရှိမှု(၈၈%)ရှိပြီး Reject (၁၂ %)ဆိုပါက များပြားနေသဖြင့် ပြင်ဆင် တင်ပြရန် ကိစ္စနှင့်ပတ်သက်၍ သားမွေးကုန်ကြမ်းမှ ကုန်ချောအဆင့်သို့ ပြုပြင်ထုတ်လုပ်မှုတွင် Reject မထားပါ။ ကုန်ကြမ်းအရေအတွက်အတိုင်း ကုန်ချောအရေအတွက် တိကျစွာထွက်ရှိပြီး Weight lost သာ (၄၀% မှ ၅၀%)ခန့် ရှိပါသည်။ ကုန်ချောပစ္စည်းတန်ဖိုး မြင့်မားပြီး ပစ္စည်း သဘောသဘာဝအရ ပြုပြင်ထုတ်လုပ်ခြင်းသာ ဖြစ်ပါသဖြင့် Reject မရှိခြင်း ဖြစ်ပါသည်။ ကုန်ကြမ်း ရရှိမှုနှင့် ကုန်ချောပြည်ပသို့ ထွက်ရှိမှု အရေအတွက်ခြားနားမှု (၁၂%)ဆိုသည်မှာ Reject မဟုတ်ဘဲ တစ်ပိုင်းတစ်စကုန်ချော Work in Process စာရင်းပိတ်လက်ကျန်သာ ဖြစ်ပါသည်။ နောက်ဆက်တွဲပါ ဇယားဖြင့် တင်ပြအပ်ပါသည်။

(ခ) ထုတ်လုပ်မှုပြည့်မီရန် စက်အလုံးရေအနည်းငယ်ထည့်သွင်းရန် ကိစ္စနှင့်ပတ်သက်၍ သက်ဆိုင်ရာ နိုင်ငံခြားကုမ္ပဏီ၏ ကျွမ်းကျင်ထုတ်လုပ်မှုအင်ဂျင်နီယာများအား ပြန်လည်တွက်ချက်စိစစ်စေရာ တပ်ဆင်စက်စွမ်းအားသည် အဆိုပြုတင်ပြချက်ပါနှုန်းအလိုက် ထုတ်လုပ်မှုအား ပြည့်မီစွာ ထုတ်လုပ်နိုင်ပါကြောင်း အတည်ပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးရဲမြင့်
ဒါရိုက်တာ
FILAND CO., LTD

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှ သည့် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| I. | **FILAND ENTERPRISE INC.**<br>**334 GOLDHAWK TRAIL TORONTO ON M1V 4G2**<br>**Represented by;** | **Incorporated in Canada** | 1500 | |
| 1. | **Ms. Wei Tian**<br>334 Goldhawk Trail Scarborough<br>Ontario Canada M1V 4G2<br>(Merchant) | Canadian<br>GF-457043 | | |
| 2. | **Mr. Run Tong Tian**<br>334 Goldhawk Trail Scarborough<br>Ontario Canada M1V 4G2<br>(Merchant) | Canadian<br>QK-725606 | | |
| 3. | **Mr. Zou Jintian**<br>8 Meihu Industrial Park, Huizhou City,<br>Guangdong Province.<br>(Merchant) | Chinese<br>G-39848224 | | |
| 4. | **Mr. Zhang, Weijian**<br>8 Meihu Industrial Park, Huizhou City,<br>Guangdong Province.<br>(Merchant) | Chinese<br>E-29999997 | | |

ရန်ကုန် မြို့။ နေ့စွဲ၊ ၂၀၁၅–ခုနှစ်၊ ဒီဇင်ဘာလ၊ ( ) ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင်
လက်မှတ်ရေးထိုးကြပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှ သည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် ဆန္ဒရှိသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရန် ကြိုက်သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| II. | **CHAN MYAE KYWE GROUP CO., LTD.**<br>**No. (388/.398), Mingalar Ahsintmyint Housing, A(4/5), 3rd Floor, Sinmin Quarter, Kannar Road, Ahlone Township, Yangon.**<br>**Represented by;** | **Incorporated in Myanmar** | 375 | |
| 1. | **U Kyaw Naing Oo**<br>No.(9), Yatana Thiyi Lane, Zawana Quarter, Thingangyun Township, Yangon.<br>(Merchant) | Myanmar<br>3/Ba Ah Na<br>(Naing) 019191 | | |
| 2. | **U Ye Myint**<br>No.(A/9), Aye Nandar Housing, Ayeyarwun Road, 10/North Ward, Tharkayta Township, Yangon.<br>(Merchant) | Myanmar<br>12/Ya Ka Na<br>(Naing) 013626 | | |
| 3. | **U Myo Chit**<br>No.(14), Aung Saytanar Street, Ward (11), Lashio Township, Northern Shan State.<br>(Merchant) | Myanmar<br>6/Hta Wa Na<br>(Naing) 004788 | | |

ရန်ကုန် မြို့။ နေ့စွဲ၊ ၂၀၁၅–ခုနှစ်၊ ဒီဇင်ဘာလ၊ ( ) ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင်

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ဖိုင်လင်း ကုမ္ပဏီလီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲပထမဇယားပုံစံ'က'ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်)တစ်ခုခုအတွက်ငွေထည့် ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မတည်ငွေရင်းမှာ ကျပ် ၁၀,၀၀၀,၀၀၀,၀၀၀ /- ( ကျပ် **သန်းတစ်သောင်း** တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀ /- ( ကျပ် **တစ်သိန်း** တိတိ ) တန် ရှယ်ယာပေါင်း ( ၁၀၀,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထားတစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ချက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် –
(၁) **Ms. Wei Tian**
(၂) **Mr. Run Tong Tian**
(၃) **Mr. Zou Jintian**
(၄) **Mr. Zhang, Weijian**
(၅) **U Kyaw Naing Oo**
(၆) **U Ye Myint**
(၇) **U Myo Chit**

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး ( – )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါကဒါရိုက်တာနှစ်ဦးတက်ရောက်လျှင်အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသောရေးသားထားသည့် ဆုံးဖြတ်ချက်ကစ်ရပ်သည်နည်းလမ်း တကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည်အောက်ဖော်ပြပါ အာဏာများရှိမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ –

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများသတ်မှတ်၍ ကုမ္ပဏီက ရယူရန်အာဏာရှိသည့်မည်သည့်ပစ္စည်း၊အခွင့်အရေးများ၊အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ခေါ်ယူခြင်းမပြုရသေးသောရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘာတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ် တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေးဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) [illegible] ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသောငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ကန်ထရိုက် စာချုပ်များနှင့်စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စားမည်သူကလက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများကသင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန်မလိုသေးသောကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကိုပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ ( လက်ရှိနှင့် နောင်တွင်ရှိမည့် ) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည့်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အထိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေလိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ထို့နောက်ဒါရိုက်တာအဖွဲ့ကသတ်မှတ်ပေးသည့်အချိန်နှင့်နေရာများတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့်အထွေထွေအစည်းအဝေးကြီးနှင့်တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်သင်းလုံးကျွတ်အစည်းအဝေးစတင်၍ လုပ်ငန်းအတွက်ဆွေးနွေးချိန်တွင်အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့်အစုရှင်အရေအတွက်မတက်ရောက်သော မည်သည့်သင်းလုံးကျွတ်အစည်း အဝေးတွင်မဆိုလုပ်ငန်းနှင့်ပတ်သတ်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့်မတည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်းပိုင်ဆိုင်ကြသည့်(နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန် အတွက်အစည်းအဝေး အထမြောက်သည့်ဦးရေ ဖြစ်သည်။ ကယ်၍ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်း သာရှိသည့်ကိစ္စတွင်မူထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေးအထမြောက်ရန်သတ်မှတ်သည့်အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကိုကြေညာရမည်။ သို့ရာတွင်အမြတ်ဝေစုသည်ဒါရိုက်တာများက ထောက်ခံသောငွေပမာဏထက်မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏အမြတ်ပမာဏသို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကိုဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား ထွေထွေမန်နေဂျာအဖြစ်ခန့်အပ်ရန်နှင့်အခြားအရည်အချင်းပြည့်မီသူများအားရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည် ဖြစ်သည်။ လစာ၊ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကိုဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များသို့ သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်းလည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည် ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်များနှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကိုဤကုမ္ပဏီ၏မှတ်ပုံတင်ထားသောလုပ်ငန်းရုံးသို့မဟုတ်ဒါရိုက်တာများကသင့်လျော် သည်ဟုထင်မြင်ယူဆသော အခြားနေရာများတွင်သိမ်းဆည်းထားရမည်ဖြစ်ပြီး ရုံးချိန်အတွင်း၌ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ သို့မဟုတ်အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့်လိုက်လျောညီထွေဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာ ပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၄င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအကိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည်တံဆိပ်ကိုလုံခြုံစွာထိန်းသိမ်းထားရန်အတွက်စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကိုဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး ထို့အပြင် အနည်းဆုံးဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက် စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လတ်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ လက်ရှိ တရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊စာရင်းစစ်၊အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန်ဝတ္တရားများကိုဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေကျခံခဲ့ရသည့်စရိတ်များ၊တောင်းခံငွေများ၊ဆုံးရှုံးငွေများ၊ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ဖျက်သိမ်းရာ တွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့်ယင်းဥပဒေများအား အခါအားလျော်စွာပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| I. | **FILAND ENTERPRISE INC.**<br>**334 GOLDHAWK TRAIL TORONTO ON M1V 4G2** | **Incorporated in Canada** | 1500 | |
| 1. | **Represented by;**<br>**Ms. Wei Tian**<br>334 Goldhawk Trail Scarborough<br>Ontario Canada M1V 4G2<br>(Merchant) | Canadian<br>GF- 457043 | | |
| 2. | **Mr. Run Tong Tian**<br>334 Goldhawk Trail Scarborough<br>Ontario Canada M1V 4G2<br>(Merchant) | Canadian<br>QK- 725606 | | |
| 3. | **Mr. Zou Jintian**<br>8 Meihu industrial park, Huizhou city,<br>Guangdong province.<br>(Merchant) | Chinese<br>G-39848224 | | |
| 4. | **Mr. Zhang, Weijian**<br>8 Meihu industrial park, Huizhou city,<br>Guangdong province.<br>(Merchant) | Chinese<br>E-29999997 | | |

ရန်ကုန် မြို့။ နေ့စွဲ၊ ၂၀၁၅–ခုနှစ်၊ ဒီဇင်ဘာလ၊ ( ) ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့ မှောက်တွင်

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည့် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| II. | **CHAN MYAE KYWE GROUP CO., LTD.**<br>**No. (388/.398), Mingalar Ahsintmyint Housing, A(4/5), 3rd Floor, Sinmin Quarter, Kannar Road, Ahlone Township, Yangon.**<br>**Represented by;** | **Incorporated in Myanmar** | 375 | |
| 1. | **U Kyaw Naing Oo**<br>No.(9), Yatana Thiyi Lane, Zawana Quarter, Thingangyun Township, Yangon.<br>(Merchant) | Myanmar<br>3/Ba Ah Na<br>(Naing) 019191 | | |
| 2. | **U Ye Myint**<br>No.(A/9), Aye Nandar Housing, Ayeyarwun Road, 10/North Ward, Tharkayta Township, Yangon.<br>(Merchant) | Myanmar<br>12/Ya Ka Na<br>(Naing) 013626 | | |
| 3. | **U Myo Chit**<br>No.(14), Aung Saytanar Street, Ward (11), Lashio Township, Northern Shan State.<br>(Merchant) | Myanmar<br>6/Hta Wa Na<br>(Naing) 004788 | | |

ရန်ကုန် မြို့။ နေ့စွဲ၊ ၂၀၁၅–ခုနှစ်၊ ဒီဇင်ဘာလ၊ ( ) ရက်။
အထက်ပါလက်မှတ်ရင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင်

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

**FILAND COMPANY LIMITED**

I. The name of the Company is "**FILAND COMPANY LIMITED**".

II. The registered office of the Company will be situated in the Union of Myanmar.

III. The objects for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorised capital of the Company is Ks. 10,000 ,000 ,000 /- ( Kyats Ten Thousand Million Only ) divided into ( 100000 ) shares of Ks.100, 000 /- ( Kyats One Hundred Thousand Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

The Objective For Which The company is established are

(1) Manufacturing of Fur Dressed Garment Factory.

(2) To borrow money for the benefit of the Company's business from any person, firm, company, bank or financial organization in the manners that the Company shall think fit.

PROVISO:- *Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the Laws, Orders and Notifications of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below,are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set oppsite our respective names.

| Sr. No. | Name, address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| I. | **FILAND ENTERPRISE INC.**<br>334 GOLDHAWK TRAIL TORONTO ON M1V 4G2 | **Incorporated in Canada** | 1500 | |
| 1. | **Represented by;**<br>**Ms. Wei Tian**<br>334 Goldhawk Trail Scarborough Ontario Canada M1V 4G2<br>(Merchant) | Canadian<br>GF-457043 | | |
| 2. | **Mr. Run Tong Tian**<br>334 Goldhawk Trail Scarborough Ontario Canada M1V 4G2<br>(Merchant) | Canadian<br>QK-725606 | | |
| 3. | **Mr. Zou Jintian**<br>8 Meihu Industrial Park, Huizhou City, Guangdong Province.<br>(Merchant) | Chinese<br>G-39848224 | | |
| 4. | **Mr. Zhang, Weijian**<br>8 Meihu Industrial Park, Huizhou City, Guangdong Province.<br>(Merchant) | Chinese<br>E-29999997 | | |

Yangon Township. Dated the day of December , 2015.

*It is hereby certified that the persons mentioned above*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below,are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set oppsite our respective names.

| Sr. No. | Name, address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| II. | **CHAN MYAE KYWE GROUP CO., LTD. No. (388/.398), Mingalar Ahsintmyint Housing, A(4/5), 3rd Floor, Sinmin Quarter, Kannar Road, Ahlone Township, Yangon.** | **Incorporated in Myanmar** | 375 | |
| | **Represented by;** | | | |
| 1. | **U Kyaw Naing Oo** No.(9), Yatana Thiyi Lane, Zawana Quarter, Thingangyun Township, Yangon. (Merchant) | Myanmar 3/Ba Ah Na (Naing) 019191 | | |
| 2. | **U Ye Myint** No.(A/9), Aye Nandar Housing, Ayeyarwun Road, 10/North Ward, Tharkayta Township, Yangon. (Merchant) | Myanmar 12/Ya Ka Na (Naing) 013626 | | |
| 3. | **U Myo Chit** No.(14), Aung Saytanar Street, Ward (11), Lashio Township, Northern Shan State. (Merchant) | Myanmar 6/Hta Wa Na (Naing) 004788 | | |

Yangon Township. Dated the day of December , 2015.

*It is hereby certified that the persons mentioned above*

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# FILAND COMPANY LIMITED

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRIVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect.

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The Authorised Capital of the Company is Ks.10,000,000,000 /- (Kyats Ten Thousand Million Only) divided into (100000 ) shares of Ks. 100,000 /- (Kyats One Hundred Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such person and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the General Manager or some other persons nominated by the Board of Directors. If the share certificate is defaced, lost or destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognised by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the persons, and at the times and places appointed by the Directors. A call may be made payable by instalments or may be revoked or postponed as the Directors may determine.

7. Unless otherwise determined by a General Meeting the number of Directors shall not be less than ( 2 ) and not more than ( 15 ).

The First Directors shall be: -

(1) **Ms. Wei Tian**
(2) **Mr. Run Tong Tian**
(3) **Mr. Zou Jintian**
(4) **Mr. Zhang, Weijian**
(5) **U Kyaw Naing Oo**
(6) **U Ye Myint**
(7) **U Myo Chit**

8. The Directors may from time to time appoint one of their body to the office of the Managing Director for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The qualification of a Director shall be the holding of at least ( - ) shares in the Company in his or her own name and it shall be his duty to comply with the provision of Section ( 85 ) of the Myanmar Companies Act.

10. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

11. The Director may meet together for the despatch of business, adjourn and otherwise regulate their meeting as they think fit and determine the quorum necessary for the transaction of business. Unless otherwise determined, two shall form a quorum. If any question arising an any meeting the Managing Director's decision shall be final. When any matter is put to a vote and if there shall be an equality of votes, the Chairman shall have a second or casting vote.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called , held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power: -

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price,and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or service rendered to the Company, either wholly or partially in cash or in shares , bonds , debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon ; and any such bonds, debentures or other securities may be either specifically charged upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfilment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Compnay and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clerks, Agents and Servants for permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their dehalf.

(6) To appoint a Director as Managing Director, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purpose and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend or abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, promissory notes, receipts, endorsements, releases, contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities and in such manners as the Directors may think fit, and from time vary or realize such investments.

(15) To execute in the name and on behalf of the Company in favour of any Director or other person who may incur or be about to incur any personal liablity for the benefit of the Company, such mortgage of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, convenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission on the profit of any particular business or transcaion or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make , vary and repeal bye-laws, for the regulation of the business of the Company, the officers and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purpose of the Company.

(19) To borrow money for the benefit of the Company's business from any person.

GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calender year at such time ( not being more than fifteen months after the holding of the last preceding general meeting ) and places as may be fixed by the Board of Directors. No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding not less than 50 percent of the issued shares capital ( not less than two members ) personally present, shall form a quorum for all purpose. And if and when in the case of there are only two numbers of members in the Company, those two members shall form a quorum.

**DIVIDENDS**

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

**OFFICE STAFF**

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allownaces such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and apporved by the general meeting. The General Manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

**ACCOUNTS**

18. The Directors shall cause to be kept proper books of account with respect to: -

*(1) all sums of money received and expended by the Company and the matters in respect ot which the receipts and expenditures take palace;*

*(2) all sales and purchases of goods by the Company;*

*(3) all assets and liabilities of the Company.*

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

20. Auditors shall be appointed and their duties regulation in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTIC

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisons of Section 86 ( C ) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING -UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below,are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set oppsite our respective names.

| Sr. No. | Name, address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| I. | **FILAND ENTERPRISE INC.**<br>**334 GOLDHAWK TRAIL TORONTO ON M1V 4G2** | **Incorporated in Canada** | 1500 | |
| 1. | **Represented by;**<br>**Ms. Wei Tian**<br>334 Goldhawk Trail Scarborough<br>Ontario Canada M1V 4G2<br>(Merchant) | Canadian<br>GF- 457043 | | |
| 2. | **Mr. Run Tong Tian**<br>334 Goldhawk Trail Scarborough<br>Ontario Canada M1V 4G2<br>(Merchant) | Canadian<br>QK- 725606 | | |
| 3. | **Mr. Zou Jintian**<br>8 Meihu Industrial Park, Huizhou City,<br>Guangdong Province.<br>(Merchant) | Chinese<br>G-39848224 | | |
| 4. | **Mr. Zhang, Weijian**<br>8 Meihu Industrial Park, Huizhou City,<br>Guangdong Province.<br>(Merchant) | Chinese<br>E-29999997 | | |

Yangon Township. Dated the day of December 2015.

*It is hereby certified that the persons mentioned above*

We the several persons, whose names nationalities, addresses and descriptions are subscribed below,are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set oppsite our respective names.

| Sr. No. | Name, address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| II. | **CHAN MYAE KYWE GROUP CO., LTD.**<br>**No. (388/.398), Mingalar Ahsintmyint Housing, A(4/5), 3rd Floor, Sinmin Quarter, Kannar Road, Ahlone Township, Yangon.**<br>**Represented by;** | **Incorporated in Myanmar** | 375 | |
| 1. | **U Kyaw Naing Oo**<br>No.(9), Yatana Thiyi Lane, Zawana Quarter, Thingangyun Township, Yangon.<br>(Merchant) | Myanmar<br>3/Ba Ah Na<br>(Naing) 019191 | | |
| 2. | **U Ye Myint**<br>No.(A/9), Aye Nandar Housing, Ayeyarwun Road, 10/North Ward, Tharkayta Township, Yangon.<br>(Merchant) | Myanmar<br>12/Ya Ka Na<br>(Naing) 013626 | | |
| 3. | **U Myo Chit**<br>No.(14), Aung Saytanar Street, Ward (11), Lashio Township, Northern Shan State.<br>(Merchant) | Myanmar<br>6/Hta Wa Na<br>(Naing) 004788 | | |

Yangon Township. Dated the day of December, 2015.

*It is hereby certified that the persons mentioned above*